**EVERCLEVER (MYANMAR) CO., LTD. မှ တင်ပြသည့် အဆိုပြုချက်နှင့်စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း**

**Education Services လုပ်ငန်း**

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုလွှောက်ထားလွှာ တင်ပြလာခြင်း | ၂၆-၂-၂၀၁၉ | | |
| ၂။ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်း အဝေးသို့တင်ပြခြင်း | ၉/၂၀၁၉ (၅-၃-၂၀၁၉) | ၁၄-၃-၂၀၁၉ | |
| ၃။ | လုပ်ငန်းလိုအပ်ချက်အရ သက်ဆိုင်ရာ ဝန်ကြီးဌာနများသို့ သဘောထား တောင်းခံခြင်း<br>- ပညာရေးဝန်ကြီးဌာန<br>- ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | <br><br>၂၅-၃-၂၀၁၉<br>၂၅-၃-၂၀၁၉ | <br><br>၁၅-၄-၂၀၁၉<br>၁၈-၄-၂၀၁၉ | |
| ၄။ | အဆိုပြုချက်အပေါ် ပြင်ဆင်တင်ပြ ရမည့်အချက်များ အကြောင်းကြားခြင်း | ၂၉-၄-၂၀၁၉ | | |
| ၅။ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၇/၂၀၁၉ (၁၁-၅-၂၀၁၉) | | |
| | စုစုပေါင်းကြာမြင့်ရက် | (၇၄) ရက် | | |

## အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

ကုမ္ပဏီအမည် **EVERCLEVER (MYANMAR) CO., LTD.**

လုပ်ငန်းအမျိုးအစား **Education Services လုပ်ငန်း**

PAT အကြိမ်/ ရက်စွဲ ၉/၂၀၁၉ (၅-၃-၂၀၁၉)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု ပြီး(✔) မပြီး(X) | မှတ်ချက် |
|---|---|---|---|
| ၁။ | Accreditation Procedure တင်ပြရန်နှင့် ယင်း Procedure အပေါ် ပညာရေးဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံရန် | ✔ | |

ကန့်သတ်

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် EVERCLEVER (MYANMAR) CO., LTD. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ Education Services လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန်<br><br><br>လုပ်ငန်းအမျိုးအစား | - EVERCLEVER (MYANMAR) CO., LTD.<br>- Mr. Yao-Lang Chang<br>- ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Mr. Yao-Lang Chang ထိုင်ဝမ် ၇၀%<br>ဦးနေလင်းဖြိုး မြန်မာ ၃၀ %<br>- Education Services လုပ်ငန်း |
| ၂။ | တည်နေရာ | - အမှတ်- (၅၀)၊ ပြည်လမ်း၊ (၁၁) ရပ်ကွက် ၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း<br>မြေနှင့်အဆောက်အအုံငှားရမ်းခ<br>မြေနှင့်အဆောက်အအုံငှားရမ်းအသုံးပြုခွင့်သက်တမ်း | - ဦးကြည်ရှင်<br>- ၁ ဧက (၄၀၄၆.၈၅ စတုရန်းမီတာ)<br>- ကျပ် ၅၅၈.၀၀၀ သန်း (၁ စတုရန်းမီတာ ကျပ် ၁၃၇,၉၁၄.၀၀၀)<br>- ကနဦး ၃၀ နှစ် |
| ၄။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့်သက်တမ်း | - ၃၀ နှစ် |
| ၅။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - ၁ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ<br>ထည့်ဝင်သည့်အမျိုးအစား<br>ငွေသား | - အမေရိကန်ဒေါ်လာ ၄.၀၀ သန်း<br>US$ (သန်း)<br>နိုင်ငံခြား (၇၀%) ၂.၈၀၀ \| မြန်မာ (၃၀%) ၁.၂၀၀ \| စုစုပေါင်း ၄.၀၀၀ |

ကန့်သတ်

Salient

**၇။ ဝန်ဆောင်မှုအမျိုးအစားနှင့် ဝန်ဆောင်ခနှုန်းထား (ပထမနှစ်)**

| စဉ် | အမျိုးအမည် | | ကာလ (လ) | ကျောင်းသားဦးရေ | ဝန်ဆောင်ခနှုန်း (US$) |
|---|---|---|---|---|---|
| (က) | Kinder-garten | Pre-KG | ၁၀ | ၃၀ | ၈,၀၀၀ |
| | | K1 | ၁၀ | ၃၀ | ၉,၀၀၀ |
| | | K2 | ၁၀ | ၂၀ | ၁၀,၀၀၀ |
| | | K3 | ၁၀ | ၂၀ | ၁၁,၀၀၀ |
| (ခ) | Primary | G1 | ၁၀ | - | ၁၂,၀၀၀ |
| | | G2 | ၁၀ | - | ၁၃,၀၀၀ |
| | | G3 | ၁၀ | - | ၁၄,၀၀၀ |
| | | G4 | ၁၀ | - | ၁၅,၀၀၀ |
| | | G5 | ၁၀ | - | ၁၆,၀၀၀ |

**၈။ ဝန်ထမ်းခန့်ထားမှု**

**သင်ကြားရေး**

| | ပြည်တွင်း | ပြည်ပ |
|---|---|---|
| ဦးရေ | ၁၃ ဦး | ၁၁ ဦး |
| အမြင့်ဆုံးလစာ | US$ ၁,၀၆၆ | US$ ၄,၀၀၀ |
| အနိမ့်ဆုံးလစာ | US$ ၃၅၇ | US$ ၃,၀၀၀ |

**စီမံခန့်ခွဲရေး**

| | ပြည်တွင်း | ပြည်ပ |
|---|---|---|
| ဦးရေ | ၁၁ ဦး | ၁ ဦး |
| အမြင့်ဆုံးလစာ | US$ ၃၀၀ | US$ ၄,၀၀၀ |
| အနိမ့်ဆုံးလစာ | US$ ၁၅၀ | |

**၉။ အခြားတင်ပြချက်**

- ငွေကြေးအထောက်အထားအဖြစ် ထိုင်းနိုင်ငံ KRUNG THAI Bank တွင် ၇-၁၁-၂၀၁၈ ရက်စွဲဖြင့် Mr. Yao-Lang Chang အမည်ဖြင့် အမေရိကန်ဒေါ်လာ ၃,၃၅၈,၄၄၁.၁၅ နှင့် CB Bank တွင် ၁၄-၁-၁၉ ရက်စွဲဖြင့် ဦးနေလင်းဖြိုး အမည်ဖြင့် ကျပ် ၄၇၂,၈၉၂,၃၂၆.၈၀ နှင့် US$ ၃၀၀,၀၈၆.၈၆ ရှိကြောင်း တင်ပြထားပါသည်။
- EVERCLEVER (MYANMAR) CO., LTD. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ မြေပိုင်ဆိုင်မှု အထောက်အထား၊ မြေပိုင်ရှင် ဦးကြည်ရှင်နှင့် ကုမ္ပဏီတို့ချုပ်ဆိုထားသည့် မြေနှင့်အဆောက်အအုံ ငှားရမ်းခြင်းစာချုပ်(မူကြမ်း)နှင့် ဖက်စပ်စာချုပ် (မူကြမ်း)

| | | |
|---|---|---|
| | | တို့ကို တင်ပြထားပါသည်။<br>- သင်ကြားမည့် ဆရာ/ဆရာမများ၏ ပညာအရည်အချင်း အထောက်အထားများ တင်ပြထားပါသည်။<br>- ပေးအပ်မည့် သင်တန်းဆင်းလက်မှတ် နမူနာများနှင့် သင်ရိုး ညွှန်းတမ်းများအား တင်ပြထားပါသည်။<br>- Accreditation Procedure တင်ပြထားပါသည်။<br>- ကုမ္ပဏီသည် ပထမနှစ်တွင် Kindergarten အတန်းများသာ သင်ကြားမည်ဖြစ်ပြီး ဒုတိယနှစ်မှ စတင်ပြီး Primary အတန်း များအား သင်ကြားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိ ရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီ အစဉ်များနှင့် Corporate Social Responsibility (CSR) အစီ အစဉ်များကို တင်ပြထားပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | - ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါ သည်။<br>- ကော်မရှင်ခွင့်ပြုမိန့် ရရှိပြီးပါက သက်ဆိုင်ရာ လုပ်ငန်းလိုင်စင် များ လျှောက်ထားရန် လိုအပ်မည်ဖြစ်ပါသည်။ |

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(အ)/၁-၀၃၀/ ၂၀၁၉(၂၅၉)

ရက်စွဲ၊ ၂၀၁၉ ခုနှစ် မေ လ ၈ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် EVERCLEVER (MYANMAR) CO., LTD. မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ Education Services လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် တရုတ်ပြည်သူ့သမ္မတနိုင်ငံ Mr. YAO-LANG CHANG မှ ၇၀ %၊ မြန်မာနိုင်ငံ ဦးနေလင်းဖြိုးမှ ၃၀ % ထည့်ဝင်ကာ EVERCLEVER (MYANMAR) CO., LTD. တည်ထောင်၍ အမှတ် ၅၀၊ ပြည်လမ်း၊ ၁၁ ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် Education Services လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ EVERCLEVER (MYANMAR) CO., LTD. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ ဝန်ထမ်းများ၏ သက်သာချောင်ချိရေးအစီအစဉ်၊ ဆောက်လုပ်မည့် အဆောက်အအုံ၏ Layout Plan၊ သင်ကြားမည့် ဆရာ/ဆရာမများ၏ ပညာအရည်အချင်း အထောက်အထားများ၊ သင်ကြားမည့် သင်ရိုးညွှန်းတမ်း၊ Accreditation Procedure၊ မြေပိုင်ဆိုင်မှု အထောက်အထားများ၊ ဖက်စပ်စာချုပ်နှင့် မြေနှင့် အဆောက်အအုံငှားရမ်းခြင်းစာချုပ် (မူကြမ်း) တို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းကာလမှာ ၃၀ နှစ် ဖြစ်ပါသည်။ စုစုပေါင်းမြေ ၁ ဧက (၄,၀၄၆.၈၅ စတုရန်းမီတာ) အား ငှားရမ်း၍ နှစ်စဉ်မြေငှားရမ်းခမှာ ကျပ် ၅၅၈.၀၀၀ သန်း ဖြစ်ပြီး ၁ နှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၁၃၇,၉၁၄.၀၀၀ ဖြစ်ပါသည်။

၄။ အဆိုပြုလုပ်ငန်း၏ စီမံကိန်းကာလမှာ ကနဦး ၃၀ နှစ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၄.၀၀၀ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

US$ (သန်း)

| **ထည့်ဝင်သည့်အမျိုးအစား** | **နိုင်ငံခြား (၇၀%)** | **မြန်မာ (၃၀%)** | **စုစုပေါင်း** |
|---|---|---|---|
| ငွေသား | ၂.၈၀၀ | ၁.၂၀၀ | ၄.၀၀၀ |
| **စုစုပေါင်း** | ၂.၈၀၀ | ၁.၂၀၀ | ၄.၀၀၀ |

ကန့်သတ်

၆။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် သင်ကြားရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်း ၁၃ ဦး နှင့် ပြည်ပဝန်ထမ်း ၁၁ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၃၅၇ နှင့် အမြင့်ဆုံးလစာမှာ US$ ၁,၀၆၆ ဖြစ်ပြီး ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၃,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ US$ ၄,၀၀၀ ဖြစ်ပါသည်။ စီမံခန့်ခွဲရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်း ၁၁ ဦး နှင့် ပြည်ပဝန်ထမ်း ၁ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၁၅၀ နှင့် အမြင့်ဆုံးလစာမှာ US$ ၃၀၀ ဖြစ်ပြီး ပြည်ပ ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၄,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ဝန်ဆောင်မှုပေးမည့် သင်တန်းများနှင့် ဝန်ဆောင်ခနှုန်းထားများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | | ကာလ (လ) | ကျောင်းသား ဦးရေ | ဝန်ဆောင်ခနှုန်း (US$) |
|---|---|---|---|---|---|
| (က) | Kinder-garten | Pre-KG | ၁၀ | ၃၀ | ၈,၀၀၀ |
| | | K1 | ၁၀ | ၃၀ | ၉,၀၀၀ |
| | | K2 | ၁၀ | ၂၀ | ၁၀,၀၀၀ |
| | | K3 | ၁၀ | ၂၀ | ၁၁,၀၀၀ |
| (ခ) | Primary | G1 | ၁၀ | - | ၁၂,၀၀၀ |
| | | G2 | ၁၀ | - | ၁၃,၀၀၀ |
| | | G3 | ၁၀ | - | ၁၄,၀၀၀ |
| | | G4 | ၁၀ | - | ၁၅,၀၀၀ |
| | | G5 | ၁၀ | - | ၁၆,၀၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်-

(က) **ပညာရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-က)**

အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့် ကိုက်ညီပါက ပုဂ္ဂလိက ရင်းနှီးမြှုပ်နှံရန် ထောက်ခံပါကြောင်း၊ ပညာရေးဝန်ကြီးဌာနအနေဖြင့် မြန်မာ့ပညာရေးကဏ္ဍတွင် ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုကို ကြိုဆိုပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

(ခ) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး** **(နောက်ဆက်တွဲ-ခ)**

အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ၂၀၁၉ ခုနှစ် ဧပြီလ ၁၁ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၃/၂၀၁၉)၊

ဆုံးဖြတ်ချက်အပိုဒ် (၇၄) အရ ကန့်ကွက်ရန် မရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

၉။ ငွေကြေးအထောက်အထားအဖြစ် ထိုင်းနိုင်ငံ KRUNG THAI BANK ၌ ၇-၁၁-၂၀၁၈ ရက်နေ့တွင် Mr. Yao-Lang Chang အမည်ဖြင့် အမေရိကန်ဒေါ်လာ ၃,၃၅၈,၄၄၁.၁၅ နှင့် CB Bank ၌ ၁၄-၁-၁၉ ရက်နေ့တွင် ဦးနေလင်းဖြိုးအမည်ဖြင့် ကျပ် ၄၇၂,၈၉၂,၃၂၆.၈၀ နှင့် US$ ၃၀၀,၀၈၆.၈၆ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

(ဂ) ကုမ္ပဏီသည် ပထမနှစ်တွင် Kindergarten အတန်းများသာ သင်ကြားမည်ဖြစ်ပြီး ဒုတိယနှစ်မှ စတင်ပြီး Primary အတန်းများအား သင်ကြားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ဃ) ကော်မရှင်ခွင့်ပြုမိန့် ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်မည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် EVERCLEVER (MYANMAR) CO., LTD. မှ **Education Services လုပ်ငန်း**အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ နှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(သန့်စင်လွင်၊ ခေတ္တအတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

နောက်ဆက်တွဲ-က

| ဝင်စာအမှတ် | My- 1657 |
|---|---|
| ရက်စွဲ | 19.4.2019 |



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပညာရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ စီမံကိန်း(သဘောထား) /၂၀၁၉( ၇၅၉၁ )
ရက်စွဲ ၊ ၂၀၁၉ ခုနှစ်၊ ဧပြီလ( ၁၅ )ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၅-၃-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၅ (အ)/ ခ - ၀၃၀/ ၂၀၁၉ (၂၁၈)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Everclever (Myanmar) Co., Ltd. မှ အမှတ် - ၅၀၊ ပြည်လမ်း၊ ၁၁ ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် ပညာရေးဝန်ဆောင်မှုဆိုင်ရာ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာမှုအပေါ် ရည်ညွှန်းပါစာဖြင့် ပညာရေးဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်ကိုက်ညီပါက ပုဂ္ဂလိကရင်းနှီးမြှုပ်နှံရန် ထောက်ခံပါကြောင်း၊ ပညာရေးဝန်ကြီးဌာနအနေဖြင့် မြန်မာ့ပညာရေးကဏ္ဍတွင် ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုကိုကြိုဆိုပါကြောင်းနှင့် အောက်ဖော်ပြပါ အကြံပြုချက်များနှင့်အညီ ဆောင်ရွက်ပါက ပညာရေးဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်-

(က) Well International School သည် ထိုင်းနိုင်ငံတွင် ဖွင့်လှစ်ထားသော နိုင်ငံတကာသင်ရိုးဖြင့် သူငယ်တန်းမှဒွါဒသမတန်းထိ သင်ကြားပေးနေသည့် ကျောင်းတစ်ကျောင်းဖြစ်ပြီး၊ အမေရိကန်ပြည်ထောင်စု၊ ကာလီဖိုးနီးယားပြည်နယ်ရှိ Western Association of Schools and Colleges ၏ Accrediation Commission for Schools က အသိအမှတ်ပြုထားသော ကျောင်းဖြစ်သည်ဟု လေ့လာတွေ့ရှိရပါသည်။

(ခ) Everclever (Myanmar) Co., Ltd. က တင်ပြထားသည့် Accrediting Process မှာ ပြည်ပ Accreditation Agency ၏ လုပ်ထုံးလုပ်နည်းသာဖြစ်သဖြင့် ၎င်းနှင့်စပ်လျဉ်း၍ သီးခြားသဘောထားမှတ်ချက်ပေးရန် မရှိပါ။

(ဂ) အဆိုပြုလွှာများတွင် Wells International School (Yangon Campus)ဟု ဖော်ပြထားသော်လည်း ယခုအဆိုပြုသည့်ကျောင်းသည် ထိုင်းနိုင်ငံရှိ Wells International School ၏ ကျောင်းခွဲအဖြစ် တည်ထောင်ခြင်း ဟုတ်၊ မဟုတ် အထောက်အထား တစ်ခု တစ်စုံတစ်ရာ မတွေ့ရပါ။

(ဃ) ရင်းနှီးမြှုပ်နှံမှုဆောင်ရွက်ရာတွင် ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် ကိုက်ညီပါက Everclever (Myanmar) Co., Ltd. ၏ ပညာရေးဝန်ဆောင်မှုလုပ်ငန်းကို လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်ရန် ထောက်ခံပါသည်။

(င) ပညာရေးဝန်ကြီးဌာနက အဆိုပြုသတ်မှတ်ထားသည့် အချက်(၁၇)ချက်ကို အချိန်ယူစိစစ်ရန် လိုအပ်ပါသဖြင့် ဆက်သွယ်ဆောင်ရွက်နိုင်ရေး ညှိနှိုင်းအပ်ပါသည်။

Kyaw Naing
15-4-19

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ဒေါက်တာကျော်နိုင်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

- အမျိုးသားပညာရေးမူဝါဒကော်မရှင်
- မူဝါဒနှင့် ဥပဒေလုပ်ထုံးလုပ်နည်းစိစစ်ရေးနှင့်လုပ်ငန်းစစ်ဆေးရေးဌာနခွဲ၊ ဝန်ကြီးရုံး၊ ပညာရေးဝန်ကြီးဌာန
- ဦးနေလင်းဖြိုး၊ Everclever (Myanmar) Co., Ltd.
- ရုံးလက်ခံ/ မျှောစာတွဲ

| ဝင်စာအမှတ် | M5-1652 |
| --- | --- |
| ရက်စွဲ | 18-4-19 |



နောက်ဆက်တွဲ-ခ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဧပြီလ ၁၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၅.၃.၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက - ၅ (အ)/ ခ - ၀၃၀ / ၂၀၁၉ (၂၁၉)

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Everclever (Myanmar) Co.,Ltd မှ အမှတ်-၅၀၊ ပြည်လမ်း၊ ၁၀ ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် Education Service လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၁၁.၄.၂၀၁၉ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၃/၂၀၁၉)၊ ဆုံးဖြတ်ချက်အပိုဒ်(၇၄)အရ ကန့်ကွက်ရန် မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(နိုင်ငံလင်း၊ လူမှုရေးဝန်ကြီး)

**မိတ္တူကို**

တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး၊ ရန်ကုန်တိုင်းဒေသကြီး
တိုင်းဒေသကြီးဦးစီးမှူး၊ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရန်ကုန်အနောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှိုင်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Everclever (Myanmar) Co.,Ltd

လက်ခံစာတွဲ
မျှောစာတွဲ